ကုမ္ပဏီအမည် - Paragon Myay Latt Thar Co., Ltd.
လုပ်ငန်း - တန်ဖိုးမြင့် နှမ်းနှင့် နှမ်းလှော်ဆီမွှေးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၉-၉-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(ခ) ကျန်းမာရေးဝန်ကြီးဌာန<br>(ဂ) စက်မှုဝန်ကြီးဌာန<br>(ဃ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန<br>(င) မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့<br>(ပထမအကြိမ်)<br>(ဒုတိယအကြိမ်) | <br>၂၆-၉-၂၀၁၄<br>၂၆-၉-၂၀၁၄<br>၂၆-၉-၂၀၁၄<br><br><br>၂၆-၉-၂၀၁၄<br>၁၆-၁၀-၂၀၁၅ | <br>၁၄-၁၀-၂၀၁၄<br>၁၄-၁၀-၂၀၁၄<br>၁၄-၁၀-၂၀၁၄<br><br><br>၂၅-၁၀-၂၀၁၄ | မကွေးတိုင်းဒေသကြီး၂၅-၁၀-၂၀၁၄ ရက်စွဲပါကန့်ကွက်စာ ပြန်ကြား လာပါသဖြင့် ကုမ္ပဏီသို့ ၁၁-၁၁-၂၀၁၄ ရက်စွဲပါ စာဖြင့် အဆိုပြုလွှာ ပြန်လည်ပေးပို့ ခဲ့ပါသည်။ |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်း အဝေး (၆/၂၀၁၅) သို့ တင်ပြခြင်း | ၉-၂-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၈-၂-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှမြေပြောင်းလဲ လျှောက်ထားခြင်း | ၁၆-၂-၂၀၁၅ | | |
| ၆ | မကွေးတိုင်း ဒေသကြီးသို့ သဘောထား တောင်းခံခြင်း | ၂၄-၂-၂၀၁၅ | ၄-၅-၂၀၁၅ | |
| ၇ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင်အစည်းအဝေး (၉/၂၀၁၅) သို့ မြေအသုံးပြုခွင့် တင်ပြခြင်း<br>(ခ) စီးပွားရေးရာကော်မတီအစည်းအဝေး သို့မြေအသုံးပြုခွင့် တင်ပြခြင်း<br>(ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ မြေအသုံး ပြုခွင့် တင်ပြခြင်း | <br>၁၈-၅-၂၀၁၅ | | |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၈ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | ၁၅-၅-၂၀၁၅ | | |
| ၉ | **စုစုပေါင်း ကြာမြင့်ရက်** | **(၈၉) ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Paragon Myay Latt Thar Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - တန်ဖိုးမြှင့် နှမ်းနှင့် နှမ်းလှော်ဆီမွှေး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ကွင်းအမှတ် (၁၆၄၆)၊ ဦးပိုင်အမှတ် (၁၂၉/၂)နှင့် ဦးပိုင်အမှတ် (၁၃၀)၊ ဆားတိုင်ကံ ကျေးရွာအုပ်စု၊ မကွေးခရိုင်၊ မကွေးမြို့နယ်၊ မကွေးတိုင်းဒေသကြီး ရှိ ယာမြေ ၃.၅၅ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၆.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - (၃၀) နှစ် |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၁၉၀၄.၈၂ | ၅၃၄၄.၅၈ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၁၂.၅ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄၀)ဦး |
| ၈ | CSR (၂%) | | ၅၉.၉၀ |
| ၉ | မြေငှားရမ်းခ | | ၂၅.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၅၀ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၉၀၆.၅ | ၅၅၄၃.၁၅ |
| ၁၁ | Cost : Benefit | ၁ : ၃ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Paragon Myay Latt Thar Co., Ltd. တည်ထောင်၍ တန်ဖိုးမြင့် နှမ်းနှင့် နှမ်းလှော်ဆီမွှေး ထုတ်လုပ်ခြင်း ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ဦးအင်းယား (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Myay Latt Thar General Trading Co-op Ltd. (မြန်မာနိုင်ငံ) (၅၀%)<br>- Mr. Chen Wen-Nan (တရုတ်နိုင်ငံ) (၁၃%)<br>- Mr. Chen Hsi-Ming (တရုတ်နိုင်ငံ) (၁၂%)<br>- Mr. Wang Tien-Ting (တရုတ်နိုင်ငံ) (၁၂%)<br>Mr. Chen Jui-Li (တရုတ်နိုင်ငံ) (၁၂%) |
| | လုပ်ငန်းအမျိုးအစား | - တန်ဖိုးမြင့် နှမ်းနှင့်နှမ်းလှော်ဆီမွှေး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဆားတိုင်ကံ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၆၄၆)၊ ဦးပိုင်အမှတ် (၁၂၉/၂) နှင့် ဦးပိုင်အမှတ်(၁၃၀)၊ မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မကွေးမြို့နယ်၊ စုစုပေါင်း မြေ ဧရိယာ (၃.၅၅) ဧက |
| | မြေပိုင်ရှင် | - ဦးဘိုအောင် |
| | မြေအကျယ်အဝန်း | - ၃.၅၅ ဧက (၁၄,၃၆၆.၃၆ စတုရန်းမီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ ကျပ် ၅.၀၀ သန်း (တစ်စတုရန်းမီတာလျှင် ကျပ် ၃၄၈.၀၄) |
| | မြေငှားရမ်းကာလ | - ကနဦး (၃၀)နှစ် |
| | လုပ်ငန်းသက်တမ်း | - (၃၀) နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - (၁) နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၆.၀၀ သန်း |

| | US$ (သန်းပေါင်း) | | |
|---|---|---|---|
| | ပြည်တွင်း(US$) | ပြည်ပ(US$) | စုစုပေါင်း |
| In Cash | ၃.၀၆ | ၂.၉၄ | ၆.၀၀ |
| Total | ၃.၀၆ | ၂.၉၄ | ၆.၀၀ |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - ၂၀၀ ဦး |
| | ပြည်တွင်း | - ၂၀၀ ဦး<br>(အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US $ ၁၄.၀၃ သန်း |
| | အသုံးစရိတ် | - US $ ၁၁.၆၃ သန်း |
| | အသားတင်အမြတ် | - US $ ၂.၄၀သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်(ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၀.၈၀ သန်း |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၀၀,၀၀၀ kWh |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမ မြောက်နှစ်) | |

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှုအရေအတွက် (Ton) | ရောင်းဈေးနှုန်း | |
|---|---|---|---|
| | | ပြည်တွင်း (Kyat/Ton) | ပြည်ပ (USD/Ton) |
| Huskless Sesame Seeds & Roasted Sesame Seeds | ၃,၃၀၀ | - | ၃,၀၀၀ |
| Roasted Sesame Oil | ၁,၁၀၀ | - | ၃,၇၀၀ |
| Sesame Cake | ၁၃၀ | ၄၈၀,၀၀၀ | - |

| | | |
|---|---|---|
| ၁၃ | စိစစ်တွေ့ရှိချက် | - အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဘိုအောင် နှင့် Paragon Myay Latt Thar Co., Ltd. တို့ကြားချုပ်ဆိုမည့် မြေငှား ရမ်းစာချုပ် (မူကြမ်း)၊ Myay Latt Thar General Trading Co-op Ltd. နှင့် Mr. Chen Wen-Nan၊ Mr. Chen Hsi-Ming၊ Mr. Wang Tien-Ting၊ Mr. Chen Jui-Li တို့ အကြားချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း)၊ မြေအထောက်အထား များနှင့် အဆောက်အဦဓာတ်ပုံတို့ကို တင်ပြထားပါသည်။<br>ငွေကြေး အထောက်အထားအဖြစ် Mr. Chen Wen-Nan အမည်ဖြင့် တရုတ်နိုင်ငံ၊ Chang Hwa Commercial Bank Ltd.၊ Chiang Tsui Branch တွင် (၁-၄-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန် ဒေါ်လာ ၂.၀၁ သန်း၊ Mr. Chen Hsi-Ming အမည်ဖြင့် တရုတ်နိုင်ငံ၊ Chang Hwa Commercial Bank, Ltd.၊ Chiang Tsui Branch တွင် (၃၁-၃-၂၀၁၄) ရက်စွဲဖြင့် ငွေ လက်ကျန် US$ ၁.၀၀ သန်း၊ Mr. Chen Jui-Li အမည်ဖြင့် တရုတ်နိုင်ငံ Taichaung Commercial Bank တွင် (၂၈-၃-၂၀၁၄ ) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၁.၀၀ သန်း၊ Mr. Wang Tien-Ting အမည်ဖြင့် တရုတ်နိုင်ငံ Taichaung Commercial Bank တွင် (၂၈-၃-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၄၉၂၄၆.၅၃ ၊ Myay Latt Thar General Trading Co-op Ltd. အမည်ဖြင့် မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်တွင် (၇-၈-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၀.၃၀ သန်း နှင့် Myay Latt Thar General Trading Co-op Ltd. အမည်ဖြင့် ရောဝတီဘဏ်တွင် (၁၁-၉-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၄၀၀.၀၀ သန်း ရှိကြောင်း တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| | | - ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှတည်နေရာပြမြေပုံ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်း ခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု အစီအစဉ်များ၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် ရပ်ရွာအကျိုးပြု အစီအစဉ် (CSR) အဖြစ်နှစ်စဉ် ရရှိသော အမြတ်ငွေမှ ၁% ကိုသုံးစွဲမည် ဖြစ်ကြောင်း ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက-၂/ န-၁၁၁ /၂၀၁၅ (၃၉၀ - က)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၂၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Paragon Myay Latt Thar Co., Ltd. တည်ထောင်၍ တန်ဖိုးမြင့် နမ်းနှင့် နမ်းလှော်ဆီမွှေး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Myay Latt Thar General Trading Co-op Ltd. မှ (၅၁%) ၊ တရုတ်နိုင်ငံ Mr. Chen Wen-Nan မှ (၁၃%)၊ Mr. Chen Hsi-Ming မှ (၁၂%)၊ Mr. Wang Tien-Ting မှ (၁၂%)၊ Mr. Chen Jui-Li မှ (၁၂%)၊ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Paragon Myay Latt Thar Co., Ltd. တည်ထောင်၍ မကွေးတိုင်းဒေသကြီး မကွေးခရိုင်၊ မကွေးမြို့နယ်၊ ဆားတိုင်ကန်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၆၄၆)၊ ဦးပိုင်အမှတ် (၁၂၉/၂) ရှိ ယာမြေ ဧရိယာ(၁.၅၅) ဧက နှင့် ဦးပိုင်အမှတ် (၁၃၀) ရှိ ယာမြေ ဧရိယာ (၂.၀၀) ဧက၊ စုစုပေါင်း မြေ ဧရိယာ (၃.၅၅) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ တို့ကို ငှားရမ်း၍ တန်ဖိုးမြင့် နမ်းနှင့် နမ်းလှော်ဆီမွှေး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဘိုအောင် နှင့် Paragon Myay Latt Thar Co., Ltd. တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ Myay Latt Thar General Trading Co-op Ltd. နှင့် Mr. Chen Wen-Nan၊ Mr. Chen His-Ming မှ၊ Mr. Wang Tien-Ting၊ Mr. Chen Jui-Li တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း)၊ မြေ အထောက်အထားများနှင့် အဆောက်အဦဓာတ်ပုံတို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မကွေးတိုင်းဒေသကြီး မကွေးခရိုင်၊ မကွေးမြို့နယ်၊ ဆားတိုင်ကံ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၆၄၆)၊ ဦးပိုင်အမှတ် (၁၂၉/၂) ရှိ ယာမြေ ဧရိယာ (၁.၅၅) ဧက နှင့် ဦးပိုင်အမှတ် (၁၃၀) ရှိ ယာမြေ ဧရိယာ (၂.၀၀) ဧက၊ စုစုပေါင်း မြေ ဧရိယာ

(၃.၅၅) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို တစ်စတုရန်းမီတာလျှင် ကျပ် ၃၄၈.၀၄ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခ ကျပ် ၅.၀၀ သန်း ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၃.၀၆ | ၂.၉၄ | ၆.၀၀ |
| **စုစုပေါင်း** | **၃.၀၆** | **၂.၉၄** | **၆.၀၀** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် တန်ဖိုးမြင့် နှမ်းနှင့် နှမ်းဆီထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ရာတွင် ပြည်တွင်း ဝန်ထမ်း (၂၀၀)ဦး ခန့်ထားမည်ဖြစ်ပါသည်။ (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော နှမ်းနှင့်နှမ်းလှော်ဆီမွှေးများကို ပြည်ပသို့ ၁၀၀% တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | ရောင်းဈေးနှုန်း | |
|---|---|---|---|
| | | ပြည်တွင်း (Kyat/Ton) | ပြည်ပ (USD/Ton) |
| Huskless Sesame Seeds & Roasted Sesame Seeds | ၃,၃၀၀ | - | ၃,၀၀၀ |
| Roasted Sesame Oil | ၁,၁၀၀ | - | ၃,၇၀၀ |
| Sesame Cake | ၁၃၀ | ၄၈၀,၀၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US $ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | US $ ၁၄.၀၃ သန်း |
| (ခ) | အသုံးစရိတ် | US $ ၁၁.၆၃ သန်း |
| (ဂ) | အသားတင်အမြတ် | US $ ၂.၄၀ သန်း |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၈၀၁သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၆၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့** မှ (၂၈-၄-၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးမှတ်တမ်း အမှတ်စဉ် (၁၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ်(၂၀) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ စီမံကိန်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းအစီအမံများ၊ စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေး စီမံချက်များ၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်း ဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု အနည်းဆုံးဖြစ်စေရန် ဆောင်ရွက်နိုင်မည့် အစီအစဉ်များကို စနစ်တကျ ထည့်သွင်း ဆောင်ရွက်သွားရန်၊ အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများ အသုံးပြုရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးကျန်းမာရေးတို့ကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်း အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်များ စီမံခန့်ခွဲမှုနှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ သုံးစွဲမည့်ရန်ပုံငွေ စသည် တို့ပါဝင်သည့် ပတ်ဝန်ကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်နှင့် ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** Environmental Management Plan (EMP) **အစီရင်ခံစာအား** Neo Tech

Myanmar Co., Ltd. မှ လုပ်ကိုင်ဆောင်ရွက်နေပြီ ဖြစ်ပါကြောင်း တင်ပြထားပါသည်။] **နောက်ဆက်တွဲ-ခ**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာန** မှ ပြည်သူများ စားသုံးမည့် အစားအစာ ထုတ်လုပ်မည့် ကိစ္စဖြစ်ခြင်း၊ တင်ပို့ထုတ်လုပ် ဖြန့်ဖြူးရောင်းချမည့် လုပ်ငန်းအဆင့်များခြင်း၊ အန္တရာယ်ရှိ ဓာတုပစ္စည်းများနှင့် ပြည်သူလူထုကျန်းမာရေး ထိခိုက်နိုင်သည့် အရာဝတ္ထုများရောနှောပါဝင်ခြင်းတို့ မဖြစ်နိုင်စေရေးအတွက် အစားအသောက်နှင့် ဆေးဝါးကွပ်ကဲမှုဦးစီးဌာနသို့ တရားဝင်လိုင်စင် လျှောက်ထားဆောင်ရွက်သင့်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ - ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Mr. Chen Wen-Nan အမည်ဖြင့် တရုတ်နိုင်ငံ၊ Chang Hwa Commercial Bank Ltd. Chiang Tsui Branch တွင် (၁-၄-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန် ဒေါ်လာ ၂.၀၁ သန်း၊ Mr. Chen Hsi-Ming အမည်ဖြင့် တရုတ်နိုင်ငံ၊ Chang Hwa Commercial Bank, Ltd. Chiang Tsui Branch တွင် (၃၁-၃-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန် ဒေါ်လာ ၁.၀၀ သန်း၊ Mr. Chen Jui-Li အမည်ဖြင့် တရုတ်နိုင်ငံ Taichaung Commercial Bank တွင် (၂၈-၃-၂၀၁၄ ) ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၁.၀၀ သန်း၊ Mr. Wang Tien-Ting အမည်ဖြင့် တရုတ် နိုင်ငံ Taichaung Commercial Bank တွင် (၂၈-၃-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန် ဒေါ်လာ ၄၉၂၄၆.၅၃၊ Myay Latt Thar General Trading Co-op Ltd. အမည်ဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် (၇-၈-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၀.၃၀ သန်း နှင့် Myay Latt Thar General Trading Co-op Ltd. အမည်ဖြင့် ရောဝတီဘဏ်တွင် (၁၁-၉-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၄၀၀.၀၀ သန်း ရှိကြောင်း တင်ပြထားပါသည်။ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Paragon Myay Latt Thar Co., Ltd. မှ တည်နေရာပြမြေပုံ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်

အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှုအစီအစဉ်များ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ်နှစ်စဉ် ရရှိသော အမြတ်ငွေမှ ၁% ကိုသုံးစွဲမည် ဖြစ်ကြောင်း ကတိဝန်ခံချက် တို့ကို တင်ပြ ထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၄ (၂၉-၉-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ စိစစ်တင်ပြချက်

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာ ကော်မတီ စည်းအဝေး နှင့် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေးများသို့ ဆက်လက် တင်ပြရန်ဆောင်ရွက်လျှက်ရှိပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Paragon Myay Latt Thar Co., Ltd. တည်ထောင်၍ တန်ဖိုးမြင့် နှမ်းနှင့် နှမ်းလှော်ဆီမွှေးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ - က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## မကွေးတိုင်းဒေသကြီး



MIC, 40
8/5

စာအမှတ်၊ ၅ / ၄၃ - ၂၈၆ (၁) / ဦး ၆
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၂၆.၉.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၁၁ / ၂၀၁၄ (၀၁၁၆)

(၂) ဤရုံး၏ ၂၅.၁၀.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၅ / ၄၃ - ၂၈၆ / ဦး ၆

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၂၄.၂.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၁၁ / ၂၀၁၅ (၁၅၁)

၁။ မြန်မာနိုင်ငံ Myay Latt Thar General CO-OP Ltd မှ (၅၁ %)၊ တရုတ်နိုင်ငံ Mr.Chen Wen - Nan မှ (၁၃ %)၊ Mr.Chen His-Ming မှ (၁၂ %)၊ Mr.Wang Tien-Ting မှ (၁၂ %)၊ Mr.Chen Jui-Li မှ (၁၂ %)အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် PARAGON MYAY LATT THAR Co.,Ltd တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မကွေးမြို့နယ်၊ အောင်မေတ္တာရပ်ကွက်ရှိ မြေကွက်တွင် တန်ဖိုးမြှင့် နှမ်းနှင့် နှမ်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့်အစား မကွေးမြို့နယ်၊ ဆားတိုင်ကန်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၆၄၆)၊ ဦးပိုင်အမှတ် (၁၂၉/၂)၊ ယာမြေဧရိယာ(၁.၅၅)ဧက၊ ဦးပိုင်အမှတ်(၁၃၀)၊ ယာမြေ(၂.၀၀)ဧကအား ငှားရမ်း၍ တန်ဖိုးမြှင့် နှမ်းနှင့် နှမ်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် ထပ်မံအဆိုပြု တင်ပြထားရှိမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်း(၃)ပါစာဖြင့် ညှိနှိုင်း အကြောင်းကြားထားရှိပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်ပြီး (၂၈.၄.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးမှတ်တမ်းအမှတ်စဉ်(၁၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ်(၂၀)အရ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
( နေဝင်း၊ အတွင်းရေးမှူး )

မိတ္တူကို

လက်ခံစာတွဲ

မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(၁)(၃)/( ၅၅၂၂ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊အောက်တိုဘာလ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **PARAGON MYAY LATT THAR CO., LTD မှ တန်ဖိုးမြင့် နှမ်းနှင့် နှမ်းဆီထုတ်လုပ်ရောင်းချသည့်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်း ကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၁၁/၂၀၁၄(၁၁၃၀)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ Myay Latt Thar General Trading CO-OP LTD မှ (၅၁%) ၊ တရုတ်နိုင်ငံ Mr. Chen Wen-Nan မှ (၁၃%)၊ Mr. Chen His-Ming မှ (၁၂%) ၊ Mr. Wang Tien-Ting မှ (၁၂%) ၊ Mr. Chen Jui-Li မှ (၁၂%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် PARAGON MYAY LATT THAR CO., LTD တည်ထောင်၍ မကွေးတိုင်းဒေသကြီး ၊ မကွေးမြို့နယ်၊ အောင်မေတ္တာရပ်ကွက်၊ မြေကွက် အမှတ် (၁၆၅၅၊ အုတ်ဖို၊ အောင်မေတ္တာ-က) ဦးပိုင်အမှတ် ၈၇၉ ၊ ၈၈၀ ၊ ၈၈၁ ရှိ မြေ(၀.၂၉၁) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ တန်ဖိုးမြှင့် နှမ်း နှင့် နှမ်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် ၊ ဝင်ငွေခွန်နှင့် ပတ်သက်၍ ကတိဝန်ခံချက်၊ လူမှုရေးဆိုင်ရာ တာဝန်ခံမှုဆောင်ရွက်မည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆောင်ရွက်မည့်အစီအစဉ်၊ ကုန်ပစ္စည်းထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် နှမ်း (၁၈၇၂)တန် စတင်ထုတ်လုပ်ပြီး နှစ်စဉ်ထပ်မံတိုးမြှင့် ထုတ်လုပ်မည်ဖြစ်ကြောင်း၊ ပထမနှစ်တွင် နှမ်းဆီ (၅၅၀)တန် စတင်ထုတ်လုပ်မည်ဖြစ်ပြီး နှစ်စဉ်ထပ်မံ တိုးမြှင့်ထုတ်လုပ်မည်ဖြစ်ကြောင်း၊ စက်ရုံ ဝန်ထမ်းများ လုပ်ငန်းခွင် သာယာပျော်ရွှင်ရေး အစီအမံများ ၊ မီးဘေးကာကွယ်ရေး အစီအမံများနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်တို့ ဖော်ပြပါရှိပြီး လေထုအရည်အသွေး စီမံခန့်ခွဲမှု အစီအစဉ်တွင် စီမံကိန်းဧရိယာအတွင်း $PM_{2.5}$၊ $PM_{10}$၊ $SO_2$၊ $NO_2$ နှင့် $O_3$ တို့ကို တိုင်းတာမည်ဖြစ်ပါကြောင်း ၊ မကွေးမြို့ လေထုအရည်အသွေး နှင့် စက်ရုံအတွင်း လေထုအရည်

အသွေးမှာ အမျိုးသားအဆင့် လေထုအရည်အသွေး စံချိန်စံညွှန်းဝန်းကျင်ဖြစ်ကြောင်း၊ စီမံခန့်ခွဲမှု မဟာဗျူဟာအနေဖြင့် စီးပွားရေးအရ တွက်ခြေကိုက်သည့် အဆင့်မြင့် နည်းပညာအသုံးပြုခြင်း၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအတွက် စီမံကိန်း ညွှန်ကြားရေးမှူးမှ တာဝန်ယူဆောင်ရွက်မည် ဖြစ်ကြောင်း၊ လေထုအရည်အသွေး စီမံခန့်ခွဲမှုအစီအစဉ် ၊ စွမ်းအင်စီမံခန့်ခွဲမှု အစီအစဉ် ၊ အသံဆူညံမှု စီမံခန့်ခွဲမှုအစီအစဉ် ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ် ၊ ရေစီမံခန့်ခွဲမှု အစီအစဉ်တို့နှင့်ပတ်သက်၍ စီမံခန့်ခွဲမှုမဟာဗျူဟာများ ၊ တာဝန်ဝတ္တရားများ ၊ စောင့်ကြပ်ကြည့်ရှုခြင်းနှင့် အစီရင်ခံတင်ပြခြင်းတို့ ဖော်ပြပါရှိပါသည်။

၃။ စက်ရုံတည်ဆောက်ရေးလုပ်ငန်း ဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ် / ယန္တရားများမှ ထွက်ရှိ လာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင် မြေထု ၊ လေထု ညစ်ညမ်းမှု နှင့် လုပ်ငန်းလည်ပတ်ချိန်တွင် လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် အသံဆူညံမှု ဖြစ်ပေါ်နိုင်ခြင်း ၊ နှမ်း သန့်စင်ရာမှ ထွက်ရှိလာမည့် ဖုန် ၊ အမှုန်များကြောင့် ပတ်ဝန်းကျင်ရှိ လေထု ညစ်ညမ်းမှု နှင့် ဝန်ထမ်းများအား အသက်ရှူလမ်းကြောင်းဆိုင်ရာ ထိခိုက်နိုင်မှုများ၊ စက်ရုံမှထွက်ရှိမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များကို စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင် ညစ်ညမ်းမှု စသော ပတ်ဝန်းကျင် ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်၍ တန်ဖိုးမြှင့် နှမ်း နှင့် နှမ်းဆီ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်း နှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု စီမံကိန်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းအစီအမံများ ၊ စက်ရုံ ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေး စီမံချက်များ ၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု အနည်းဆုံးဖြစ်စေရန် ဆောင်ရွက်နိုင်မည့် အစီအစဉ်များကို စနစ်တကျ ထည့်သွင်းဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုစီမံကိန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကို အသုံးပြုရန်၊

(ဂ) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး၊ ကျန်းမာရေးတို့ကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်း အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊

သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့ နှင့် စီမံကိန်းအနီးဝန်းကျင် ဒေသခံ ပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန် နှင့် ဒေသခံ ပြည်သူများအတွက် လူမှုစီးပွားဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှုများ ရရှိနိုင်ရေး နည်းလမ်းများ ရှာကြံအကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

15/10

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၄မခ(က) ၂၀၁၄(၄၉၉၂)/ ၁၅၄၀၂

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၁၄ ) ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းအား အကြောင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆-၉-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၁၁/ ၂၀၁၄(၀၁၀၇)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ Myay Latt Thar General Trading CO-OP LTD မှ (၅၀%)၊ တရုတ်နိုင်ငံ Mr. Chen Wen-Nan မှ(၁၃%)၊ Mr. Chen His-Ming မှ (၁၂%)၊ Mr.Wang Tien-Ting မှ (၁၂%)၊ Mr. Chen Jui-Li မှ(၁၂%)၊ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် PARAGON MYAY LATT THAR Co.,Ltd တည်ထောင်၍ မကွေးတိုင်းဒေသကြီး၊ မကွေးမြို့နယ်၊ အောင်မင်္ဂလာရပ်ကွက်တွင် တန်ဖိုးမြင့်နှမ်းနှင့်နှမ်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခဲ့ပါသဖြင့် သဘောထားမှတ်ချက်အား ဆောလျင်စွာပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးဝန်ကြီးဌာန၊ ကျန်းမာရေးဦးစီးဌာနအနေဖြင့် မကွေးတိုင်းဒေသကြီး၊ မကွေးမြို့နယ်၊ အောင်မင်္ဂလာရပ်ကွက်တွင် PARAGON MYAY LATT THAR Co.,Ltd မှ စက်ရုံ ဆောက်လုပ်၍ တန်ဖိုးမြင့် နှမ်းနှင့်နှမ်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းသည်-

- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြစ်ခြင်း၊
- ရင်းနှီးမြှုပ်နှံမှုပမာဏကြီးမားခြင်း၊
- မကွေးတိုင်းဒေသကြီး၊ မကွေးမြို့နယ်၊ အောင်မင်္ဂလာရပ်ကွက်အတွင်းတွင် တည်ဆောက်မည့် စက်ရုံများဖြစ်ခြင်း။

တို့ကြောင့် Initial Environmental Assessment (IEA) ကနဦးပတ်ဝန်းကျင်ဆိုင်ရာ ဆန်းစစ်ခြင်း (သို့မဟုတ်) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment)နှင့် ထိခိုက်မှုလျော့နည်းစေသည့် အစီအမံနှင့် ထိန်းသိမ်းကွပ်ကဲမည့် အစီအမံများကို စနစ်တကျဆောင်ရွက် တင်ပြရမည် ဖြစ်ပါသည်။

၃။ ၎င်းအပြင် ပြည်သူများစားသုံးမည့်အစားအစာ ထုတ်လုပ်မည့်ကိစ္စဖြစ်ခြင်း၊ တင်ပို့ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည့်လုပ်ငန်းအဆင့်များခြင်း၊ အန္တရာယ်ရှိ ဓာတုပစ္စည်းများနှင့် ပြည်သူလူထုကျန်းမာရေး ထိခိုက်နိုင်သည့် အရာဝတ္ထုများ ရောနှောပါဝင်ခြင်းတို့ မဖြစ်နိုင်စေရေးအတွက် အစားအသောက်နှင့် ဆေးဝါးကွပ်ကဲမှုဦးစီးဌာနသို့ တရားဝင်လိုင်စင်လျှောက်ထားဆောင်ရွက်သင့်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( စိန်ဝင်း၊ ရုံးအဖွဲ့မှူး )

NPT-၃၆၀၈
15-10-14

အောက်ဆက်တွဲ - ၈



ကနဦး-30
၁၆/၁၀

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅ ( ၃၁၅၃ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၄ ရက်

သို့
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၉.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၁၁/ ၂၀၁၄ (၀၁၁၅)

၁။ Paragon Myay Latt Thar Co.,Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မကွေးမြို့နယ်၊ အောင်မေတ္တာရပ်ကွက်၊ မြေကွက်အမှတ်(၁၆၅၅၊ အုတ်ဖို၊ အောင်မေတ္တာ-က)ဦးပိုင်အမှတ် (၈၇၉၊ ၈၈၀၊ ၈၈၁)တွင် တန်ဖိုးမြှင့်နှမ်းနှင့် နှမ်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး တန်ဖိုးမြှင့်နှမ်းနှင့် နှမ်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီစစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(စ) ကုန်ချောဈေးနှုန်း တင်ပြထားမှု ဆီလျော်မှု ရှိပါသည်။

(ဆ) နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိပါသည်။

၃။ သို့ပါ၍ Paragon Myay Latt Thar Co.,Ltd. မှ တန်ဖိုးမြင့်နှမ်းနှင့် နှမ်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်း ဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၄.၁၀.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း